

# အလ်ဟာဂျ်မောင်လာနာကာရီမုဖ်သီမုဟမ္မဒ်အာဖ်ဇလ်

## (ကျောင်းအုပ်ဆရာကြီး ဂျာမေ့အဟ် အန်ရုဖုလ်အုလူးမ်အလ်အစ္စလာမီယဟ်)

၏ ရင်တွင်းစကား

အလ်ဟမ်ဒုလိလ္လာဟ် ၊ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ကျွန်ုပ်တို့ ကျောင်းတော်မှ ယခုနှစ်အာလေ့မဟ် ပြီးမြောက်အောင်မြင်ကြမည့် သမီးငယ်လေးများသည်(၅)နှစ်တာ အာလေ့မဟ် သင်ရိုးကိုပြီးမြောက်အောင်မြင်စွာ သင်ယူဆည်းပူးခဲ့ပါသည်။

သာသနာ့ပညာသည် အများပညာရပ်များနည်းတူ သင်ယူ ဆည်းပူး ရုံသက်သက်မဟုတ်ဘဲ ကိုယ်တိုင်လက်တွေ့ကျင့်ကြံ၍ ပြန်လည်ဖြန့်ချိပို့ချရမည့် ပညာဖြစ်ကြောင်း ဆရာ၊ဆရာမများထံမှ ဩဝါဒများကို ကြားသိပြီးနောက် ဤသမီးငယ်များသည် ငါးနှစ်တာသင်ရိုးမပြီးမီ ကတည်းက အွမ္မသ်အား အကျိုးပြုရန် ဆန္ဒပြုခဲ့ကြသည်။

အပတ်စဉ် ကြာသပတေးနေ့တိုင်း ကျောင်းတော်ဘက်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် ရေးသားမှုအစီအစဉ်များ၊ ဟောကြားမှုပြိုင်ပွဲများတွင် လည်းပါဝင်ခဲ့ကြပါသည်။ သို့သော် လေ့ကျင့်နေဆဲ ကာလဖြစ်သည် ကတစ်ကြောင်း၊ ငါးနှစ်တာ အာလေ့မဟ်သင်ရိုးမပြီးသေးသည်ကတစ်ကြောင်း ကျောင်းတော်ဘက်မှ ကျယ်ကျယ်ပြန့်ပြန့် မပြုစေဘဲ ကျောင်းတွင်း၌ပင် ကြိုးပမ်းစေခဲ့ပါသည်။

ယခုငါးနှစ်တာ သင်ရိုးပြီးမြောက်သောအခါ ဤသမီးငယ်များ ကိုယ်တိုင်ဆရာ၊ ဆရာမတို့၏ကြီးကြပ်မှုဖြင့် ကိုယ်တော်မြတ်ﷺ၏ ဩဝါဒတော်လေးဆယ်ကို ဘာသာပြန်ဆိုကာ သမိုင်းမှတ်တိုင်းတစ်ခု တည်ဆောက်လိုက်ပါသည်။ ဤသည် ဆရာ၊ ဆရာမတို့၏ အိပ်မက်ကို အကောင်အထည်ဖော်ခြင်းနှင့်အတူ အွမ္မသ်ကိုအကျိုးပြုရေးအတွက် အလုပ်ဖြင့် သက်သေထူခြင်းတစ်မျိုးလည်း ဖြစ်ပါသည်။

ကျန်ရှိသည့်သက်တမ်းတစ်လျှောက်လုံး မြင့်မြတ်တော်မူသောအလ္လာဟ် အရှင်မြတ် ဤကလေးငယ်များကို သာသနာ့ဘောင်အတွင်းနေထိုင်ပြီး အိခ်လားစ္စ်နှင့်တကွ မိမိတတ်မြောက်သည့် ပညာရပ်များကို ပြန်လည် ဖြန့်ချိပို့ချနိုင်စွမ်း

ချီးမြှင့်ပေးသနားတော်မူပါ။ ဤကျမ်းငယ်လေးသည် သူမတို့၏ ပထမဆုံး ရေးသားသည့် ကျမ်းငယ်ဖြစ်သောကြောင့် ဆက်လက်ရေးသားနိုင်စွမ်းများလည်း အရှင်မြတ်ချီးမြှင့်ပေးသနားတော်မူပါစေ။

ထို့အတူ ဤကျမ်းငယ်လေးသည် သာမာန်ကျမ်းမဟုတ်ဘဲ နှစ်ဘဝသခင်ကိုယ်တော်မြတ် ﷺ ၏ဩဝါဒတော်များကို ရေးသားဖြန့်ချီသည့် ကျမ်းဖြစ်သောကြောင့် ဟရှရ်ကွင်းပြင်တွင် အကောင်းအဆိုး လုပ်ရပ်များ စာရင်းအင်း စစ်ဆေးမည့်အခါ ကိုယ်တော်မြတ်ဘက်တော်မှာ ကြားဝင်အသနားခံပေးမှုကို ရရှိနိုင်စေရန် ဒိုအာပြုအပ်ပါပါသည်။

**မုဖ်သီ မုဟမ္မဒ် အဖ်ဇလ်**

(ကျောင်းအုပ်ဆရာကြီး ဂျာမေ့အဟ် အရ်ရဖုလ်အုလူးမ်အလ်အစ္စလာမီယဟ်)

ဟစ်ဂျ်ရီ (၁၄၄၃)ခု၊ ရဂျဗ်လ (၂၂)ရက်

ခရစ်နှစ် (၂၀၂၂)ခု၊ ဖေဖဝါရီလ (၂၄)ရက်

بسم الله الرحمن الرحيم

# အခြားလက်ဆောင်များအစား တရားလက်ဆောင်များ

ဂျွန်းဗလီဝင်းအတွင်းဖွင့်လှစ်ထားသော ဂျာမေ့အဟ် အန်ရှုရဖုလ်အုလူးမ် အလ်အစ္စလာမီယဟ်ကျောင်းတော်မှ ယခုနှစ်အာလေ့မဟ်ဘွဲ့ယူကြမည့် ကျွန်ုပ်တို့၏ရင်သွေးငယ်များသည် မုလ္လာဟ်အလီကာရီ ﷺ စုစည်းတင်ပြထားသော الأربعون

من جوامع الكلم “ တိုတောင်း ကျစ်လျစ် ထိရောက်လှသည့် ကိုယ်တော်မြတ် ﷺ ၏ ဟဒီးဆ်တော်လေးဆယ်”ကိုဘာသာပြန်ဆိုခဲ့ပါသည်။ ထို့အတူ ကျမ်းကြီးကျမ်းငယ် အသွယ်သွယ်ကို ကိုးကားပြီး ရှင်းလင်းချက်များဖြင့် စာအုပ်ကို အလှဆင်ထားသည်မှာ လေးစားအားကျဖွယ်ကောင်းလှပါသည်။

မိမိတို့ဘွဲ့စနဒ်ယူမည့်နေ့တွင် ကြွရောက်လာမည့် ဧည့်သည်တော်များကို လက်ဆောင်အဖြစ် ချီးမြှင့်မည်ဟု သိရှိရသောကြောင့် အတိုင်းမသိ ဝမ်းသာပီတိဖြစ်ရပါသည်။ ဤအတွေးအမြင်၊ ဤသောကရှိသည့် သမီးငယ်များနှင့်ပတ်သက်ပြီး အနာဂတ်အတွက် မျှော်လင့်ချက်များလည်း ပိုမိုရှင်သန်လာခဲ့ရပါသည်။

ဤသည် အမျိုးသမီးတို့ဘက်မှ စာအုပ်စာပေဖြင့် အွမ္မသ်အကျိုးပြု သမိုင်းမှတ်တိုင်သစ်တစ်ခု စိုက်ထူလိုက်ခြင်းဖြစ်သည်ဟုလည်း မှတ်တမ်းတင် ဂုဏ်ပြုအပ်ပါသည်။ အခြားသောရင်သွေးငယ်များအတွက်လည်း စံနမူနာကောင်းတစ်ခု တည်ဆောက်လိုက်ဖြစ်သည်ဟုလည်း မှတ်ချက်ပြုချင်ပါသည်။

ယနေ့ခေတ်သည် သင်ကြားရေးနယ်ပယ်တွင်သာမက အရေးနယ်ပယ်နှင့် ဟောကြားရေးနယ်ပယ်တို့တွင်ပါ ထက်မြက်ထူးချွန်ကာ အရည်အချင်းများပြည့်စုံသည့် ကလောင်ရှင်များ၊ ခေတ်စနစ်နှင့်အညီ အစ္စလာမ့်နည်းကျ အမျိုးသမီးထုကြီးကို လမ်းညွှန်မှုများပြုပေးနိုင်မည့် မီးအိမ်ရှင်များ၊ လွယ်ကူရိုးရှင်းသောပုံစံဖြင့် အစ္စလာမ်နှင့်မိတ်ဆက်ပေးမည့် ပညာရှင်အမျိုးသမီးများကို တောင်းဆိုလျက်ရှိပါသည်။ အင်န်ရှာအောလ္လာဟ် ကျွန်ုပ်တို့ရင်သွေးငယ်များမှ ကျရာနေရာ၊ ရရာအင်အားဖြင့် ဤတောင်းဆိုချက်ကို ဖြည့်ဆည်းပါမည်ဟု အလုပ်ဖြင့် သက်သေပြလိုက်ခြင်းဖြစ်သည်ဟုလည်း ယုံကြည်မိပါသည်။

**ကျမ်းငယ်အကြောင်းတစေ့တစောင်း**

ဤကျမ်းငယ်တွင်ဖော်ပြထားသည့် ကိုယ်တော်မြတ် ﷺ ၏ ဟဒီးဆ်တော်များသည် မွတ်စ်လင်မ်အမျိုးသား၊ အမျိုးသမီးတိုင်းကျက်မှတ်လိုက်နာအပ်ပါသည်။ ဤစာအုပ်ပါ ဟဒီးဆ်တော်များသည် ကျက်မှတ်ရလွယ်ကူခြင်း၊ ဘ၀လိုအပ်ချက်များကို ဦးစားပေးတင်ပြထားခြင်းတို့ကြောင့် မုချအကျိုးဖြစ်ထွန်းစေပါမည်။

ထိုထက်ပို၍ ဟဒီးဆ်တော်(၄၀)ကျက်မှတ်ခြင်းနှင့် ပတ်သက်သည့် ကိုယ်တော်မြတ် □၏ အောက်ပါသတင်းကောင်းကိုလည်း ရယူပိုင်ဆိုင်ပြီးဖြစ်သွားပေလိမ့်မည်။

''من حفظ على أمتي أربعين حديثا في أمر دينها بعثه الله تعالى فقيها وكنت له يوم القيامة شافعا وشهيدا''. قلت: عن أبي الدرداء قال: قال رسول الله صلى الله عليه وسلم. اهـ [أخرجه أبو بكر الشافعي في ''الفوائد'' الشهير بالغيلانيات: ج: 1، ص: 370، رقم الحديث: 364].

"မည်သူမဆို ငါ၏အွမ္မသ်အတွက် သာသနာတော်နှင့်ပတ်သက်သည့် ဟဒီးဆ်တော်ပေါင်းလေးဆယ်အား ကျက်မှတ်ထိန်းသိမ်းပေးခဲ့ပါမူ အလ္လာဟ်အရှင်မြတ်သည်၎င်းသူအား သာသနာတော်တွင် ဂဃနဏ ခရေ့စေ့တွင်းကျ နားလည်သဘောပေါက်သူအဖြစ်ရှင်ပြန်ထစေမည်။ ငါကိုယ်တော်မြတ်သည်လည်း ကေယာမသ်ကမ္ဘာ့တရားခွင်နေ့၌ ၎င်းသူအဖို့ သက်သေခံ၍ အသနားခံပေးမည့် သူအဖြစ်ရှိနေမည်။"

မြင့်မြတ်တော်မူသော အရှင်မြတ် ဤရင်သွေးငယ်တို့၏ ကြိုးပမ်းမှုကို အထူးလက်ခံတော်မူပြီး ဆက်လက်၍ ဤထက်မကသော အွမ္မသ်အကျိုးပြုစာပေကျမ်းဂန်များကို လည်း ရေးသားပြုစုနိုင်စွမ်းပေးသနားတော်မူပါစေ။

**မုဖ်သီ မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊ အဗ္ဗလ်ဟစနီ၊ မဇ္ဇာဟေ့ရီ)**

*ပညာရေးမှူး၊ ဂျာမေအဟ် အရ်ုရဖုလ်အုလူးမ် အလ်အစ္စလာမီယာဟ်*

ဟစ်ဂျရီ (၁၄၄၃)ခု၊ ရဂျဗ်လ (၂၅)ရက်

ခရစ်နှစ် (၂၀၂၂)ခု၊ ဖေဖဝါရီလ (၂၇)ရက် (တနင်္ဂနွေနေ့)

بسم الله الرحمن الرحيم

# ဤကျမ်းငယ်တွင်ပါရှိသော ဟဒီးစ်တော် (၄၀) အကြောင်းမှ တစေ့တစောင်း

اَلْحَمْدُ لِلّٰهِ الَّذِىْ أَوْجَدَ الْخَلْقَ مِنَ الْعَدَمِ ، وَعَلَّمَ الْإِنْسَانَ مَا لَمْ يَعْلَمْ أَمَّا بَعْدُ : وَالصَّلَاةُ وَالسَّلَامُ عَلٰى مَنْ أَتٰى جَوَامِعَ الْكَلِمِ وَمَنَابِعَ الْحِكَمِ ، وَعَلٰى آلِه وَ أَصْحَابِه وَأَتْبَاعِه خَيْرِ الْأُمَمِ وَبَعْدُ ...

✍ ဤကျမ်းငယ်သည် မွလ္လာအလီကာရီ رَحْمَةُ اللهِ عَلَيْه ပြုစုရေးသားခဲ့သော ကိုယ်တော်မြတ် ﷺ ၏ နှုတ်ခပါတ်တော်များမှ စကားလုံးအသွင် သဏ္ဍာန် အရ နည်းပါးပြီး အဓိပ္ပါယ်အရ ပြည့်စုံကုံလုံမှုရှိသည့် ဟဒီးစ်တော် (၄၀) ဖြစ်ပါသည်။

o ကျမ်းငယ်လာ ဟဒီးစ်တော်အများစုသည် ဝါကျနှစ်ခု ဖြင့် သာဖွဲ့စည်းထားသည် ဖြစ်ရာ ကျက်မှတ်လိုသူများ အတွက် အလွန်ပင် လွယ်ကူစေမည်ဖြစ်သည်။

o အလားတူပင် ဟဒီးစ်တော်များကို အလွယ်တကူ နားလည်သဘောပေါက်စေရန် အလို့ငှာ ရှင်းလင်းချက်များကိုလည်း ပူးတွဲဖေါ်ပြထားပေသည်။

○ ရှင်းလင်းချက်အများစုမှာ عَلّامة عَبْد الرّؤُوْف مَناوى رحمةُ الله عليه သခင်ကြီး၏ فَيْض الْكَبِيْر شَرح الْجامِع الصَّغِيْر ကျမ်းမှကိုးကားတင်ပြထားသည်ဖြစ်ရာ ကျမ်း၏ခိုင်မာမှု တွင်လည်း စိတ်ချရပေသည်။

## ဟဒီးစ်တော်များကိုကျက်မှတ်ကျင့်သုံးသူ၏ အဆင့်အတန်း

✍ သာသနာ့ပညာဆိုသည်မှာ ကုရ်အာန်ဟဒီးစ်မှ မှီငြမ်းကိုးကားထားသော အရာဖြစ်သည်မှာ ကောန်မလွဲပင်။ ထို့အတွက်ကြောင့် ကျမ်းတော်မြတ်ကုရ်အာန်နှင့်အတူ ဟဒီးစ်တော်များကိုသင်ယူဆည်းပူးခြင်းသည် အလွန်မွန်မြတ်သောအေဗာဒသ်ဖြစ်ပြီး ဂျန္နသ်သုခဘုံသို့ ဝင်ရောက်စေမည့် လမ်းစဉ်တစ်ရပ်ဖြစ်သည်။

○ ဤထွဋ်မြတ်မှုနှင့်စပ်လျဉ်း၍ ဆွဟာဗီအပါး(၂၀)မှ ဆင့်ပြန်ပြောဆိုထားသော ဟဒီးစ်တော် တစ်ရပ်ကို သင်သိပါသလား? ထိုဟဒီးစ်မှာ... ကိုယ်တော်မြတ်ကြီး ﷺ သည် မိမိ၏အွမ္မသ်သူ ၊ အွမ္မသ်သားများ အနက်မှ ဟဒီးစ်တော်များကိုမှတ်သားလိုက်နာသူများအား ပြုပေးခဲ့သည့် ဆုမွန်ဒိုအာပင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ် အကြင်သူ့ကို ရွှင်လန်းစေ

တော်မူပါ (အခြားဆင့်ဆိုချက်တစ်ရပ်တွင် အလ္လာဟ်အရှင်မြတ် အကြင်သူ၏မျက်နှာကို ရွှင်လန်းစေတော်မူပါ) ၎င်းသူသည် ငါကိုယ်တော်၏ စကားကိုကြားနာပြီး ထိန်းသိမ်းကျက်မှတ်ခဲ့သည်။ပြီးနောက်တွင်လည်းထိုစကားရပ်ကို ကြားနာခွင့်မရသေးသောသူများ ထံသို့လည်း အရောက်ပို့ဆောင်ခဲ့သည်။

၀ အချို့ပညာရှင်များ၏ အဆိုအရ အထက်ပါ ဟဒီးစ်တော်တွင်ဖော်ပြထားသည့် “ရွှင်လန်းမှုကို” နောင်တမလွန်အာခေရသ်တွင်လည်း ဆွတ်ခူးရရှိမည် ဖြစ်သည်။ ထိုသို့ဆိုလျှင် ထိုဂုဏ်အင်္ဂါရပ်သည် ကျမ်းတော်မြတ် ကုရ်အာန်တွင် အလ္လာဟ်အရှင်မြတ် မိန့်မြွက်ထားတော်မူသည့် ဂျန္နသီတို့၏ ဂုဏ်အင်္ဂါရပ်ပင် မဟုတ်ပါလော။

وُجُوهٌ يَّوْمَئِذٍ نَّاضِرَةٌ ۝ اِلٰى رَبِّهَا نَاظِرَةٌ ۝ ﴿سورة القيامة : الآية ٢٢/٢٣﴾

**အဓိပ္ပါယ်** ➲ ထိုနေ့တွင် များစွာသောမျက်နှာများမှာ ရွှင်လန်းလျက်ရှိကြပြီး မိမိတို့၏ မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်အား ဖူးမြော်လျက်ရှိကြပေမည်။

၀ အထက်ပါဟဒီးစ်တော်အရ ကိုယ်တော်မြတ် ﷺ ၏ နဗူဝသ်၏ ပညာရပ်များကို လေ့လာသင်ယူပြီး ကျက်မှတ်ထိန်းသိမ်းခြင်းသည် ဂျန္နသ်သို့ဝင်ရောက်ရန်နှင့် ဂျဟန္နမ်မှလွတ်မြောက်ရန် အကြောင်းခံတစ်ရပ်ဖြစ်ကြောင်း ထင်ရှားစွာသိရ

ပေးသည်။ အဘယ့်အတွက်ကြောင့် အထက်ပါ အကျိုးကျေးဇူးကိုမရရှိမည်နည်း။ ကိုယ်တော်မြတ်ကြီး၏ ဟဒီးစ်တော်များဟူသည် ကျမ်းတော်မြတ်ကုရ်အာန်ပြီးနောက် ရှရီအသ်တရားတော်၏ ဒုတိယမှီငြမ်းကိုးကားရာ လက်စွဲကျမ်းပင် မဟုတ်လော။ ကိုယ်တော်မြတ် ﷺ မှ မိမိ၏ အွမ္မသ်သူ/သားတစ်ရပ်လုံးအတွက် ချန်ရစ်ပေးခဲ့သော အမွေအနှစ်များပင် မဟုတ်ပါသလော ?

❋ အလ္လာဟ်အရှင် အွမ္မသ်ထုတစ်ရပ်လုံးကို ဟဒီးစ်တော်လာ အစ္စလာမ့်ပဲ့ပြင်မှုများအတိုင်း မိမိတို့၏ဘဝများကို လျှောက်လှမ်းရန်အကြောင်းညီညွတ်စေတော်မူပါ။ (အာမီးန်)

ဗန္ဒာဟ်မုဟမ္မဒ်နိုအ်မားန် - ကောင်စရီ

## စုစည်းတင်ပြသူ၏အမှာစာ

✍ ဝေနယျအပေါင်းတို့အား ဖန်ဆင်းမွေးမြူ စောင့်ရှောက်တော်မူသော ၊ ခပ်သိမ်းကုန်သော အရာများအပေါ် လွှမ်းမိုးနိုင်နင်းစိုးပိုင်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမည်တော်ဖြင့်အစပြုပါ၏။ ထို့ပြင် တမန်တော်မြတ် ﷺ နှင့် ကိုယ်တော်၏ သန့်ရှင်း စင်ကြယ်ကြကုန်သော (အဟ်လေ့ဗိုင်းသ်) အိမ်တော်သူ/သား များအပြင် “အဆွ်ဟားဗ်”တော်အပေါင်းတို့အပေါ်သို့ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ရဟ်မသ် ဂရုဏာတော်အဖြာဖြာကျရောက်ပါစေရန် ဒရူးဒ်မေတ္တာ ပို့သပါသည်။

ဝ ဤကျမ်းငယ်သည် ပညာသင်ကြားရေး ကာလတွင် စာအုပ် ၊ စာပေ ဖြစ်မြောက်ရေးအတွက် သမီးတို့၏ ပထမဦးဆုံး ခြေလှမ်းလေးသာ ဖြစ်ပါသည်။ ဤစာအုပ်ငယ်လေးကို အစပြုရသည့်အကြောင်းရင်းမှာကေယာမသ်တရားစီရင် ဆုံးဖြတ်တော်မူမည့်နေ့တွင် ကိုယ်တော်မြတ် ﷺ ၏ ကြားဝင်အသနားခံပေးမှုကို မက်မောပြီး သမီးတို့၏ဆရာသခင်မောင်လာနာ မွဖ်သီ နိုအ်မားန် - အလ်ကောင်စရီ ၊ ဖွာဇွိလ် (ဒါရွလ်အုလူးမ်၊ကရာချိ ) ၏ အကြံပေးချက်ဖြင့် ဂျာမေအဟ်အရဗီယဟ် အရှ်ရဖွလ်အုလူးမ် ၏ အနာဂတ်ကောင်းကင်တွင် လင်းလက်မည့် ကြယ်စင်လေးများအား ပညာသင်ကြားရေး

နှစ်ကုန်ဆုံးချိန်တွင် လက်ဆောင်မွန်အဖြစ် ဆက်သရန် အလို့ငှာ ဖြစ်ပါသည်။

၀ ဟဇရတ် အစ်ဗ္ဗလ်လာ ဗင်န် အဗ္ဗါးစ် ﷺ ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ သခင် အမိန့်ရှိတော်မူခဲ့သည်မှာ ...

مَنْ حَفِظَ عَلَى أُمَّتِي أَرْبَعِينَ حَدِيثًا الخ

အကြင်သူသည် ငါကိုယ်တော်မြတ်၏ အွမ္မသ်သူ/သား တို့အတွက် ဟဒီးစ်တော် (၄၀) ကို ကျက်မှတ်ထိန်းသိမ်းပေးခဲ့မည်ဆိုလျှင် ငါကိုယ်တော်သည် ကေယာမသ်နေ့တွင် ၎င်းသူအဖို့ ကြားဝင်အသနားခံပေးပြီး ၊ သက်သေထွက်ဆိုပေးမည်ဖြစ်သည်။

အို ... အလ္လာဟ် သမီးတို့အပါအဝင် လေ့လာဖတ်ရှုသူ အားလုံးအား ဟဒီးစ်တော်များကို ကျက်မှတ်ကာ လက်တွေ့ကျင့်ကြံ ၊ အားထုတ်နိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါ။ သမီးတို့သည် အလ္လာဟ်အရှင်မြတ်၏ သောင်ဖီးက်စွမ်းအားဖြင့် ကြိုးကုတ်အားထုတ် ပြန်ဆိုသော်လည်း “ မဟာသမုဒ္ဒရာဝယ် ယုန်သူငယ် ခြေမထောက်နိုင် ” ဆိုသကဲ့သို့ ကိုယ်တော်မြတ်၏ ဟဒီးစ်တော်များမှာ အလွန်နက်နဲသိမ်မွေ့လှပါသည်။ သို့ပါ၍ ချွတ်ချော်မှု တစ်စုံတစ်ရာတွေ့ရှိပါက အကြံဉာဏ်ကောင်း ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

# မာတိကာ

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

# أَرْبَعُوْنَ حَدِيْثًا لِلْعَلَّامة المُلّا عَلى الْقَارِى ۔ اَلْمُتَوَفّٰى سَنَةَ ١٠١٤ھ

## قَالَ رَسُوْلُ اللّٰهِ صلّى اللّٰهُ عَلَيْه وَسَلَّم

## အီမှာန်၏ မှတ်ကျောက်




﴿ اَلْاِيْمَانُ يَمَانٍ ﴾ ﴿ اَلشَّيْخَانِ ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... ယီမင်နိုင်ငံသားတို့ထံတွင်လည်း ပြီးပြည့်စုံသော အီမာန်၏ အနှစ်သာရ ရှိသည်။

**ရှင်းလင်းချက်** ➲ ယီမင်ပြည်သည် မက္ကာဟ်ရွှေမြို့တော်၏ မြောက်ဘက်(သို့)သွာအိဖ်မြို့၏ အနောက်ဘက်မှ အစပြုပြီး ယီမင်နိုင်ငံ၏ နယ်စပ်အဆုံးတိုင်ဖြစ်သည်။ အထက်ပါဟဒီးစ်တော်တွင် အီမာန်ကို ၎င်းတို့ဘက်သို့ ပတ်သက်ဆက်နွယ်ရခြင်း၏ အကြောင်းအရင်းမှာ ၎င်းတို့သည် တမန်တော်မြတ် ﷺ ဘက်တော်မှ ဒီးန်သာသနာကို လက်ခံရန် ဖိတ်ခေါ်ခြင်းခံရသည်နှင့် တပြိုင်တည်း မဆိုင်းမတွ လက်ခံခဲ့ကြသောကြောင့်ပင်။ ထို့နောက် ကိုယ်တော်မြတ် ﷺ သည် ၎င်းတို့ထံသို့ ဒီးန်သာသနာကို သင်ကြားပို့ချရန် စေလွှတ်ခဲ့သော

ဆွဟာဗဟ် သာဂကကြီးများကိုလည်း ကြည်ဖြူစွာလက်ခံခဲ့ကြပြီး သာသနာ့ကိစ္စရပ်များကို သင်ယူခဲ့ကြပေသည်။ ထို့ကြောင့် ကိုယ်တော် ﷺ သည် ၎င်းတို့နှင့် စပ်လျဉ်း၍ ၎င်းတို့သည် အစကနဦးကပင် အီမာန်ကို လက်ခံရန် စွမ်းပကား ရှိကြသည် ဟု ကင်ပွန်းတပ်၍ မိန့်ဆိုခြင်းဖြစ်သည်။

## လက်ယာ မင်္ဂလာ

٢ ﴿اَلْاَيْمَنُ فَالْاَيْمَنُ﴾ ﴿اَلشَّيْخَانِ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... ညာဘက်မှ အစပြုပါ ၊ ညာဘက်ကို ဦးစားပေးပါ။

**ရှင်းလင်းချက်** ➲ ကိုယ်တော်မြတ် ﷺ သည် မိမိ၏ အွမ္မသ်အားညွှန်ကြားတော်မူသည့်ကောင်းခြင်းတရားမှာ ကောင်းမွန်သည့်ကိစ္စရပ်များတွင် ညာဘက်ကို ဦးစားပေး ဆောင်ရွက်ခြင်းဖြစ်သည်။ အဘယ်မျှတိုင်ဟူမူ ကျမ်းတော်မြတ်ကုရ်အာန်တွင် ဂျန္နသီများအား “ညာဘက်သူ/သားများ” ဟုပင် ခိုင်းနှိုင်းမိန့်ဆိုထားပေသည်။

## လူ့အကြောင်းပေါင်းကြည့်မှသိ

٣ اُخْبُرْ تَقْلِه ﴿أَبُوْ نعيْم﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... (လူတစ်ဦး၏)သတင်းအစုံအလင်ကိုအသင်သိရ လျှင်၎င်းအား အသင် မုန်းတီးသွားလိမ့်မည်။

**ရှင်းလင်းချက်** ➲ လူအကြောင်းပေါင်းမှသိ ဆိုသကဲ့သို့ လူတို့နှင့် ပေါင်းသင်းနေထိုင်သည့်အခါ၌ ၎င်းတို့၏ အတွင်းညစ်ညမ်းမှုများကိုသိရပေသည်။ ထို့နောက် ၎င်းတို့၏ မှုတမှုမရှိခြင်းနှင့် တစ်ကိုယ်ကောင်းဆန်မှုများကိုလည်း သိရှိနိုင်ပေသည်။ သို့သော် နာမ်ပိုင်းဆိုင်ရာ ပြုပြင်မွမ်းမံထားသည့် အီမာန်ရှင်များမှာမူ အထက်ပါ အမိန့်တွင် အကျုံးမဝင်ပေ။

✍ بنت محمّد رياض اسماعيل

## သားချင်းများအား အလေးထား

٤ اَرْحَامَكُمْ اَرْحَامَكُمْ ﴿اِبْنُ حِبَّان﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... ဆွေမျိုးသားချင်းများကို ဂရုစိုက်ပါ၊ ဆွေမျိုးဆက်ကြပါ။

**ရှင်းလင်းချက်** ➲ ဆွေမျိုးဆက်ခြင်းဟူသည်မှာ ဆွေမျိုးသားချင်းများနှင့် ကောင်းမွန်စွာ ဆက်ဆံခြင်း ဖြစ်သည်။ ထိုသို့ဖြင့် ဆွေမျိုးချင်းတွင်ချစ်ခင်မှုတိုးပွားလာမည်။ ဥစ္စာပစ္စည်းပေါ်များ ကြွယ်ဝလာမည်။ အသက်လည်းရှည်မည်။

## အသနားခံပေးခြင်း၏ အကျိုး



اِشْفَعُوْا تُؤجَرُوْا ﴿ابن عساكر﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... (သူတစ်ပါးအတွက်) ကြားဝင်အသနားခံပေးပါ ၊ ကုသိုလ်အကျိုးရလိမ့်မည်။

**ရှင်းလင်းချက်** ➲ အီမာန်ရှင်တစ်ဦး၏ လွယ်ကူမှုနှင့် ကောင်းကျိုးကိုရှေးရှုပြီး သူတစ်ပါးထံတွင် အသနားခံပေးခြင်းကို ဆိုလိုပေသည်။ ပမာအားဖြင့်ကြွေးရှင်အား အကြွေးပေးရမည့်သူဘက်မှ ဆိုင်းငံ့ပေးရန်အတွက် အသနားခံပေးမှုမျိုးကို ဆိုလိုခြင်းဖြစ်သည်။

## နေကာဟ်ကို ကြေငြာပါ

၆ اَعۡلِنُوا النِّكَاحَ ﴿أَحۡمَدُ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... နေကာဟ်ကို ကြေငြာ၍ လုပ်ကြပါ။

**ရှင်းလင်းချက်** ➲ ပျော်ရွှင်မှု အထိမ်းအမှတ်အနေဖြင့် မင်္ဂလာထိမ်းမြားခြင်းကို လူသိရှင်ကြားပြုခြင်းသည် အလွန်ထွဋ်မြတ်ပေသည်။ ထိုသို့ဖြင့် အများလူတို့ သံသယ မဖြစ်တော့ပေ။ သို့သော်နေကာဟ်မင်္ဂလာ အခမ်းအနားများတွင် သတိပြုရမည့်အချက်တစ်ချက်မှာ သူစိမ်းအမျိုးသားနှင့် အမျိုးသမီးများရောနှောမှုမဖြစ်စေရန်ဖြစ်သည်။ ထို့အတူ တရားတော်မှ တားမြစ်ထားသည့် အတီးအမှုတ်တေးသီချင်း များဖွင့်ခြင်းနှင့် ဓါတ်ပုံ၊ဗီဒီယို ရိုက်ကူးခြင်းကိုလည်း အထူး ရှောင်ရှားရန် လိုအပ်ပေသည်။

✍ بنت مولانا محمد حسين

## စားသောက်ဖွယ်ရာလေးစားပါ။

၇ اَكۡرِمِ الۡخُبۡزَ ﴿اَلۡبَيۡهَقِي﴾

ကိုယ်တော်သခင် ﷺ က အမိန့်ရှိတော်မူသည်မှာ ... စားသောက်ဖွယ်ရာများကို အလေးအမြတ်ထားပါ။

**ရှင်းလင်းချက်** ➲ မိမိရှေ့တွင်ရှိသော အစားအသောက်ကို ကြည်ဖြူကျေနပ်ရမည်။ ၎င်းကို သေးသိမ်သော အကြည့်များနှင့် မကြည့်ရ ။ မိမိ မနှစ်သက်သော အစားအသောက်ကို နင်းချေမှုမပြုရ။ သို့မှသာလျှင် အလ္လာဟ်အရှင်မြတ်၏ ချီးမြင့်ထားသော ကျေးဇူးတော်များကို ကျေးဇူးတင်ရာ ရောက်မည်။

## ပြဿနာ ရှောင်နည်း




اِلْزَمْ بَيْتَكَ ﴿اَلطَّبْرَانِي﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ … အသင့်အိမ်မှာ စွဲမြဲစွာ နေထိုင်ပါ။

**ရှင်းလင်းချက်** ➲ ဤအချက်ကို ဖိသ်နဟ်၏ အချိန်ကာလတွင်ပို၍ပင်လိုက်နာရမည်။မလိုအပ်ဘဲ အပြင်ထွက်ခြင်းသည် ဖိသ်နာဟ်များတွင် နစ်မွန်းရန် အကြောင်းခံဖြစ်နိုင်သည်။ မိမိအိမ်၌ နေထိုင်ခြင်း၏အလိုသဘောတစ်ခုမှာ အများလူထုနှင့် ရောနှောနေခြင်းဖြင့် အပြစ်ဒုစရိုက်များ ဖြစ်နိုင်ချေရှိလျှင် မိမိတစ်ဦးတည်း နေထိုင်ရမည်။ သို့သော် မိမိသည် လူအများနှင့် ရောနှောနေထိုင်ခြင်းဖြင့် ၎င်းတို့၏ သာသနာတွင် တိုးတက်မှု

ရှိမည်ဆိုလျှင် အများနှင့် နေထိုင်ခြင်းသည် တစ်ဦးတည်း နေထိုင်ခြင်းထက် သာပို၍ ထွတ်မြတ်ပေသည်။

## ချစ်ခင်ဆေး

**၉** تَهَادُوْا تَحَابُّوْا ﴿أَبُوْ يَعْلَى﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... အချင်းချင်း လက်ဆောင်ပေးကြပါ၊ ချစ်ခင်မှုတိုးပွားလာလိမ့်မည်။

**ရှင်းလင်းချက်** ➲ တစ်ဦးနှင့်တစ်ဦး လက်ဆောင်ပေးခြင်းသည် အချစ်တရားများကို တိုးပွားစေသည်။ စိတ်နှလုံးသားထဲတွင်ရှိသော မနာလိုဝန်တိုမှုနှင့် ဒေါသအား ပပျောက်စေသည်။ ထို့အပြင် နဗီတမန်တော်များနှင့် သူတော်စဉ်များ၏ လမ်းစဉ် တစ်ရပ်လည်းဖြစ်သည်။

❒ အေမာမ်ဂဇာလီ رَحۡمَةُ اللهِ عَلَيۡهِ အမိန့်ရှိသည်မှာ ... မိမိအား တစ်ဦးတစ်ယောက်ကပေးသော လက်ဆောင်ကို လက်ခံခြင်းသည် စွန္နသ်ဖြစ်သည်။ သို့သော် ပေးသူသည် မိမိအား ပေးကမ်းပြီးနောက် ဂုဏ်ဖော်မည်ဆိုလျှင် ထိုကဲ့သို့သော လက်ဆောင်ကို မယူခြင်းသည် သာပို၍ ကောင်းပေသည်။

## ပရိယာယ်ကြွယ်မှ အနိုင်ရ



﴿اَلْحَرْبُ خُدْعَةٌ﴾ ﴿اَلشَّيْخَانِ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... စစ်ပွဲဟူသည် ပရိယာယ်သာ ဖြစ်သည်။

**ရှင်းလင်းချက်** ➲ သာသနာ့စစ်ပွဲများတွင် မွတ်စ်လင်မ်များ စစ်ရေးမနိမ့်စေရန် ကာဖိရ်များ အထိနာစေရန် စစ်ပရိယာယ် သုံးခွင့်ရှိသည်။ သို့သော်အဆိုပါ အမိန့်တွင် စာချုပ်ပယ်ဖျက်ခြင်း နှင့် ကတိချိုးဖောက် ခြင်းများမပါဝင်ပေ။

❒ စစ်ပွဲ၌ ပရိယာယ်ဆင်ခြင်းတစ်မျိုးမှာ ... မိမိတို့ ခင်းကျင်းမည့် စစ်ဗျူဟာကို လျို့ဝှက်ထားပြီး မိမိတို့ မခင်းကျင်းမည့် စစ်ဗျူဟာမျိုးကို ရန်သူ့အား ပရိယာယ်ဆင်ကာ အသိပေးခြင်းမျိုးဖြစ်သည်။

✍ بنت مولانا حافظ علی بن ھارون

## စာရိတ္တ အလှ



﴿اَلْيُمْنُ حُسْنُ الْخُلُقِ﴾ ﴿الخرايطى﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... မွန်ရည်သည့် စာရိတ္တသည် ဗရကသ်မင်္ဂလာနှင့် ပြည့်စုံပါသည်။

**ရှင်းလင်းချက်** ➲ မွန်ရည်သည့်စာရိတ္တသည် ကိုယ်တော်မြတ် ﷺ သခင် နှင့် ရစူလ်တမန်တော်အပေါင်း၏ ဝိသေသ ဂုဏ်ပုဒ်တစ်ရပ်ဖြစ်သည်။ နမားဇ်၊ရိုဇဟ်၊ဇကားသ်၊ဟဂ်ျ နှင့် အခြားသော ပြုမူဆောင်ရွက်ရန် တာဝန်ရှိသည့် အဇဗာဒသ် များနည်းတူအဇဗာဒသ်တစ်မျိုးဖြစ်သည်။ အကြောင်းမှာ ဟဇရသ်ဂျိဗ်ရအီးလ် عليه السلام ကိုယ်တိုင် ကောင်းကင်ယံမှ ဝဟီ အမိန့်တော်ဖြင့် ယူဆောင်လာသည့် နာမ်ပိုင်းဆိုင်ရာ ပြုပြင် မွမ်းမံရသည့် အခန်းကဏ္ဍတစ်ခုဖြစ်သည်။ သို့သော်လည်း အီမာန်ရှင် အများစုသည် အဆိုပါ အခန်းကဏ္ဍကို ဥပေက္ခာ ပြုထားသည်မှာ ဝမ်းနည်းစရာ တစ်ရပ်ပင်တည်း။

## အကောင်းလိုလားသည့် သာသနာ



اَلدِّيْنُ النَّصِيْحَةُ ﴿اَلْبُخَارِىْ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... သာသနာ သည် အကောင်းလိုလားမှုသာလျှင်ဖြစ်သည်။

**ရှင်းလင်းချက်** ➲ ဟဇရသ် အဗူဟူရိုင်ရဟ် رضي الله عنه သခင်၏ ဆင့်ပြန်ချက်အရ အကောင်းလိုလားမှုဟုဆိုရာ၌ အလ္လာဟ် ၊ ရစူလ်နှင့်စပ်လျဉ်း၍ဖြစ်စေ၊ကျမ်းမြတ်ကုရ်အာန်နှင့်စပ်လျဉ်း

၍ဖြစ်စေ၊အများမွတ်စ်လင်မ်များနှင့်မွတ်စ်လင်မ်ခေါင်းဆောင်များအတွက်ဖြစ်စေ အားလုံးအကျိုးဝင်ပေသည်။

❶ အလ္လာဟ်နှင့်ရစူးလ်အတွက် အကောင်းလိုလားခြင်းဆိုသည်မှာ အလ္လာဟ်၏အမိန့်တော်များကို နာခံခြင်း ၊ အလ္လာဟ်နှင့်ရှရစ်က် (တုဖက်ကိုးကွယ်မှု) မပြုခြင်း ၊ မိမိ၏ အေဗာဒသ်များအား အလ္လာဟ်အတွက်သာလျှင် သီးသန့် ပြုလုပ်ခြင်းဖြစ်သည်။ ၎င်းနောက် ကိုယ်တော်သခင် ၏ မိန့်ခွန်းချက်များကို လိုက်နာခြင်း ၊ ဆန့်ကျင်မှုမပြုခြင်း ၊ ကိုယ်တော်၏စွန္နသ်တော်များအား လေးစားလိုက်နာခြင်း ၊ အခြားသူများအားဖြန့်ချီခြင်း ၊ ကိုယ်တော်သခင် နှင့် အိမ်တော်သူ/သားများ ၊ အဆွ်ဟားဗ်တော်များကို ချစ်ခင် လေးစားခြင်းတို့ဖြစ်သည်။

❷ ကုရ်အာန်ကျမ်းတော်မြတ်အတွက် အကောင်းလိုလားခြင်းဆိုသည်မှာ … ကုရ်အာန်သည် အလ္လာဟ်၏ မုကၡပါဋ္ဌ်တော်ဖြစ်ကြောင်း အီမာန်ယုံကြည်ခြင်း ၊ ၎င်းနောက် ကျမ်းမြတ်ကုရ်အာန်ကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်း ၊ ကျမ်းမြတ် ကုရ်အာန်တွင် ကျင့်ကြံရန်ပါရှိသည့် အရာများအား လိုက်နာခြင်း ၊ ယင်းကျမ်းတော်တွင် တားမြစ်ထားသောအရာများမှ ရှောင်ရှားခြင်း ၊ ကျမ်းမြတ်ကုရ်အာန်ဘက်သို့ ဒအ်ဝသ်ပေး ဖိတ်ခေါ်ခြင်း နှင့် ကျမ်းတော်မြတ်ကို အချစ်တရားထားခြင်း ဖြစ်သည်။

❸ မွတ်စ်လင်မ် ခေါင်းဆောင်များအတွက် အကောင်းလိုလား ခြင်းဆိုရာတွင် အာလင်မ် ၊ အိုလာမာများ နှင့် နိုင်ငံ့ခေါင်း ဆောင်များအတွက် အကောင်းလိုလားခြင်း နှစ်မျိုး နှစ်စားလုံး အကျုံးဝင်ပေသည်။ အာလင်မ် ၊ အိုလာမာ ( သာသနာ ကို တတ်ကျွမ်းနားလည်သူများ ) ၏ အကောင်းလိုလားခြင်း ဟူ သည်မှာ ၎င်းတို့၏ တရားတော်နှင့် အညီ ဆုံးဖြတ်သည့် ဆုံးဖြတ်ချက်များကို လိုက်နာခြင်း ။ ၎င်းတို့နှင့်ပက်သက်၍ အကောင်းထင်မြင်ခြင်း ။

နိုင်ငံ့ခေါင်းဆောင်များနှင့်စပ်လျဉ်း၍အကောင်းလိုလာခြင်း ဟူသည်မှာ … ၎င်းတို့မသိရှိသည့် သာသနာ့ကိစ္စရပ်များကို ၎င်းတို့အား သိမ်မွေ့စွာပြောပြခြင်း။ အမှန်တရားနှင့် စပ်လျဉ်း ၍ ကူညီဖေးမပေးခြင်း ၊ ၎င်းတို့ဘက်မှ ထုပ်ပြန်သော အမိန့် ဟူသမျှကို ရှရီအသ်နှင့် မဆန့်ကျင်ပါက လိုက်နာခြင်းတို့ ဖြစ်သည်။

❹ အများမွတ်စ်လင်မ်တို့နှင့် စပ်လျဉ်း၍ အကောင်းလိုလား ခြင်းဟူသည် ၎င်းတို့အား အလ္လာဟ်အမိန့်ပေး စေခိုင်းထား သောအရာများအား သတိပေးနှိုးဆော်ခြင်း ၊ ကောင်းရာညွှန် ကြား ၊ မကောင်းမှုမြစ်တားခြင်း ၊ ၎င်းတို့အပေါ် ဂရုဏာ သက်ခြင်း ၊ လှည့်စားမှု မပြုခြင်း ၊ ၎င်းတို့၏ ဂုဏ်သိက္ခာကို

ထိန်းသိမ်းကာကွယ်ပေးခြင်း ၊ မိမိလိုလားနှစ်သက်သည့်အရာများကို ၎င်းတို့အတွက်လည်း နှစ်သက်ပေးခြင်း ၊ အလားတူပင် မိမိမနှစ်သက်သည့်အရာများအား ၎င်းတို့အတွက် မနှစ်သက်ခြင်းတို့ ဖြစ်သည်။

## မျှတခြင်းမှသည် အရှင်နှင့် နီးကပ်မှုဆီသို့

١٣ سَدِّدُوا وَقَارِبُوا ﴿اَلطَّبْرَانِي﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... အသင်တို့သည်အလယ်အလတ်လမ်းစဉ်ကို လျှောက်လှမ်းကြလေကုန်။ ၎င်းနောက် အရှင်မြတ်နှင့်နီးစပ်မှု ရယူကြကုန်။

**ရှင်းလင်းချက်** ➲ တရားတော်မှ လွယ်ကူမှု ချီးမြှင့်ထားသည့်အရာများအား ထိုအတိုင်းပင် လိုက်နာဆောင်ရွက်ရမည်။ သို့မဟုတ်ပါက ခက်ခဲမှု နှင့် ကြုံတွေ့ရမည်။ ဥပမာ ခရီးသည်သည် ခရီးတွင် ခက်ခဲစွာဖြင့် ရိုဇာ ဥပုသ် သီလ စောင့်ထိန်း၍ အားအင်ချိနဲ့ကာ နမားဇ်ဆောက်တည်ရန်ပင် ခက်ခဲသွားခြင်းစသည့် ပုံစံများဖြစ်သည်။

❒ အလ္လာဟ် နှင့် နီးကပ်မှု ရယူကြ ဆိုသည့် အလိုသဘောမှာ အသင်တို့သည် အေဗာဒသ်များကို မြဲမြဲ မြံမြံ ဆောက်တည်၍ အလ္လာဟ်အရှင်နှင့် နီးကပ်မှု ရယူရမည်။

❒ ရှိုင်ခွလ်အစ္စလာမ် ဟဇရသ်မော်လာနာမွတ်ဖ်သီ သကီး အွတ်စ်မာနီး دَامَتْ بَرَكَاتُهُمْ ဆရာသခင်ကြီးသည် မိမိ၏ ဗိုခါရီ သင်ခန်းစာတွင် قَارِبُوْا ၏ အလိုသဘောတစ်ခုကို တင်ပြ သည်မှာ အကယ်၍ တစ်ဦးတစ်ယောက်သည် ရာနှုန်းပြည့် သာသနာ့လမ်းညွှန်ချက်များအပေါ် မလျှောက်လှမ်းနိုင်လျှင် လည်း အနီးစပ်ဆုံးပုံစံဖြင့် လျှောက်လှမ်းရမည်ဖြစ်သည်။

## လူပျိုလေးများ သတိထား



شِرَارُكُمْ عُزَّابُكُمْ ﴿اَلْجَامِعُ الصَّغِيْر﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... အသင်တို့ ထဲမှ အဆိုးသွမ်းဆုံးသူများသည် လူပျို ၊ လူလွတ်များ ဖြစ်ကြသည်။

**ရှင်းလင်းချက်** ➲ လူပျို၊ လူလွတ်များသည် နေကာဟ်မရှိ သည့်အတွက် ၎င်းတို့သည် ဖိသ်နာဟ်မှ မငြိမ်းချမ်းနိုင်ပေ။ ၎င်းတို့အတွက် နေကာဟ်ပြုလုပ်ခြင်းသည် အကောင်းဆုံးဖြစ် သည်။ မည်မျှ သူမွန် ၊ သူမြတ် ပင်ဖြစ်ပါစေ နေကာဟ်မရှိပါ ကမိမိကိုယ်ကိုချိုးနှိမ်၍ စိတ်၏ အလိုရမက်များကို ချုပ်တည်း ရသည်။ ထို့ကြောင့် များစွာသောသူများသည် နေကာဟ်ပြု

ပြီးသည့်နောက် နေကာဟ်၏ဘာရ်ကာသ်ဖြင့် ဂိုနာဟ်ဒုစရိုက်များမှ ရှောင်ကြဥ်ရန် လွယ်ကူမှု ရရှိသွားကြပေသည်။

✍ بنت عبدالكريم يميدنوى

## သည်းခံခြင်း အနုပညာ

## ١٥ اَلصَّبْرُ رِضًى ﴿ابن أَبِي الدُّنْيا﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... ဆွဗရ် (သည်းခံမှုတရား)ထားရှိခြင်းသည် ဒုက္ခအားလုံးနှင့် ပတ်သက်၍ ကျေနပ်ခြင်းပင်ဖြစ်သည်။

**ရှင်းလင်းချက်** ➲ ဆွဗရ် ပြုခြင်းဖြင့် အလ္လာဟ်အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုကို ရယူနိုင်ပေသည်။ အလ္လာဟ်အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုကိုရရှိသောသူတို့သည် မိမိတို့၏ ဒုက္ခများတွင်ပင် အရသာ ခံစားကြရသည်။ ဒုက္ခကို ဒုက္ခဟုပင် မမြင်ကြတော့ပေ။ လူသားသည် အလ္လာဟ်အရှင်မြတ်၏ ဒီးန်သာသနာအတွက် မိမိ၏စိတ်ကို ချိုးနှိပ်မှုပြုနေသ၍ ဆွဗရ်တရားကို လက်ကိုင် ထားရန်လွယ်ကူသည်။

❒ သာသနာ့ပညာရှင်များသည် ဆွဗရ်၏အဆင့် (၃) ဆင့် ကို ဖော်ပြထားသည်။

**ပထမအဆင့်မှာ** ... تَرْكُ الشَّكْوى (ခေါ်) ငြီးငြူ မြည်တမ်းမှုကို စွန့်လွှတ်ခြင်း ၊ ၎င်းပုဂ္ဂိုလ်များမှာ အခြေနေတိုင်းတွင် အလ္လာဟ်အရှင်မြတ်ကို ချီးမွမ်းထောပနာပြုနေသူ ၊ ကျေးဇူးတင်နေသူများဖြစ်သည်။ ဤပုဂ္ဂိုလ်များသည် تآئِبِيْن (ခေါ်) အလ္လာဟ်အရှင်မြတ်၏ ထံပါးတော်တွင် ချဉ်းကပ်သောသူများ ၏ အဆင့်အတန်းရှင်များဖြစ်သည်။

**ဒုတိယအဆင့်မှာ** ... اَلرِّضى بِالْقَضَاء ( အလ္လာဟ်အရှင်မြတ်၏ စီရင်ဆုံးဖြတ်ချက်များကို ကြည်ဖြူစွာ လက်ခံခြင်း ) သဘောမှာ စိတ်နှလုံးသားအတွင်းမှ အလ္လာဟ်အရှင်မြတ်၏ ဆုံးဖြတ်ချက်အပေါ် လက်ခံကြည်ဖြူခြင်းဖြစ်သည်။ ဤအဆင့်အတန်းသည် زَاهِدِيْن (ခေါ်) ဒွန္နယာချစ်စိတ်မရှိသောသူများ ၏ အဆင့်အတန်းဖြစ်သည်။

**တတိယအဆင့်မှာ** ... اَلْمَحَبَّةُ بِمَا يَصْنَعُ بِه مَوْلَاهُ မိမိအရှင်သခင်၏ လုပ်ရပ်မှန်သမျှကို ချစ်ခင်မြတ်နိုးတွယ်တာခြင်း ။ ဤအဆင့်သည် صِدِّيْقِيْن (ဝါ) ဆွဟာဗဟ်သာဝကကြီးများ ၏ အဆင့်အတန်း ဖြစ်ပါသည်။

## ငရဲမီးအတွက် ဒိုင်းတစ်လက်

١٦ اَلصَّوْمُ جُنَّةٌ ﴿اَلنَّسَائِى﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ … ရိုဇာဟ် ဥပုသ်သီလ စောင့်ထိန်းခြင်းသည် ဂျဟန္နမ်ငရဲမီးမှ အကာအကွယ်ပေးသော ဒိုင်း ဖြစ်သည်။

**ရှင်းလင်းချက်** ➲ ကေန်စင်စစ် ရိုဇာဥပုသ်သီလ စောင့်ထိန်းခြင်းသည် လောကဒွန္နယာ၌လည်း ဂိုနာဟ်ဒုစရိုက်များမှ ကာကွယ်ပေးသည်။ လူသား၏ အလိုရမ္မက်များကို ထိန်းချုပ်ပေးသည်။ သို့ဖြစ်ရာ လူသားသည် ရိုဇာစောင့်ထိန်းခြင်းဖြင့်

 **شهوات** (ခေါ်) အလိုရမ္မက်များကို တွန်းလှန်နိုင်မည်ဖြစ်သည်။ အမှန်စင်စစ် အလိုရမ္မက်များသည် လူသားကို ဖျက်ဆီးရန်အတွက် ရှိုင်သွာန်၏ လက်နက်ကြီးများဖြစ်သည်။ ဝမ်းဂခြင်းသည် အီမာန်ကို အားနည်းစေသည်။ ဂိုနာဟ်ဖြစ်စေနိုင်သည်။ ဤအတွက်ကြောင့် ကိုယ်တော်သခင် ﷺ မိန့်တော်မူထားသည်မှာ … ဝမ်းဗိုက်အားပြည့်စေခြင်းသည် အဆိုးရွားဆုံးသော ပြည့်ဂမှုဖြစ်သည်။ ဝမ်းဗိုက်ပြည့်နေမည်ဆိုလျှင် အတွေးများပြန့်မည် ၊ ပျင်းရိမှုလွှမ်းမိုးလာမည် ၊ ငိုက်မြည်းလာမည်။ သို့ရှိရာ အဇေဗာဒသ်ပြုလုပ်ခြင်းမှ အဟန့် အတား

ဖြစ်မည်။ ခန္ဓာကိုယ်တွင်အင်အားရှိလာ၍အချည်းအနှီး စကား များ ပြောမည်။ အလွယ်တကူဒေါသဖြစ်မည်။ အလိုရမ္မက်များ များပြားလာမည်။ အဆိုပါ အခြေအနေများနှင့် ကြုံဆုံရပါက လူသားသည် ဟရာမ်ကိစ္စရပ်များ ကျူးလွန်ရန် လွယ်ကူသွား ပေမည်။

❒ သာသနာ့ပညာရှင်များ ပြောဆိုကြသည်မှာ ... လူတို့သည် ပုံစံ (၂) မျိုး ဖြင့် ရိုဇာဥပုသ်သီလ စောင့်ထိန်းကြသည်။

❶ သာမာန်လူတန်းစား အီမာန်ရှင်များ၏ ရိုဇာဟ်မှာမူ ရိုဇာဟ် ပျက်စေသည့်အရာများမှ ထိန်းသိမ်းပေးသည်။ ၎င်း အချက်များမှာ ... စားခြင်း ၊ သောက်ခြင်း ၊ ကိုယ်လက် နှီးနှောခြင်း ၊ စသည်တို့ဖြစ်သည်။

❷ ဒုတိယ လူတန်းစားမှာမူ အလ္လာဟ်အချစ်တော်များသာ လျှင်ဖြစ်သည်။ ၎င်းတို့၏ ရိုဇာဟ်မှာမူ အလ္လာဟ်အရှင် တားမြစ်ထားသည့်အရာများကိုကျူးလွန်ခြင်းမှထိန်းသိမ်းခြင်း ဖြစ်သည်။ ပမာအားဖြင့် မျက်လုံးဂိုနာဟ် (ရုပ်ရှင်ကြည့်ခြင်း) ၊ နားဖြင့်ကျူးလွန်တတ်သောဂိုနာဟ် (တေးသီချင်းနားထောင် ခြင်း) ၊ စိတ်တွင်းမှ အလ္လာဟ်အရှင်မြတ်ကို မေ့လျော့ခြင်း စသည်တို့ဖြစ်သည်။

## နိမိတ်ဆိုး မကောက်ရ



اَلطِّيَرَةُ شِرْكٌ ﴿أَحْمَدُ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... နိမိတ်ဆိုးကောက်ခြင်းသည် ရှိရ်က်တုဖက်နိုင်းယှဉ်ခြင်း ဖြစ်သည်။

**ရှင်းလင်းချက်** ➲ အတိတ်နိမိတ်ဆိုးကောက်ခြင်းသည် စိတ်နှလုံးသားကိုညစ်ညမ်းစေသည့်ကိစ္စရပ်ဖြစ်သည်။ ကိုယ်တော်မြတ် ﷺ သခင်၏ အွမ္မသ်နှင့် မသက်ဆိုင် ၊ မလျော်ကန်သည့် ကိစ္စရပ်ဖြစ်သည်။ အဘယ့်ကြောင့်ဟူမူ ကိုယ်တော်မြတ်ﷺ သခင်၏ အွမ္မသ်သည် အလ္လာဟ်တစ်ပါးတည်း ကိုသာလျှင် ယုံကြည်ရသည့်အွမ္မသ်ဖြစ်သည်။၎င်းနောက်အကောင်းအဆိုးဟူသမျှသည် အလ္လာဟ်အရှင်မြတ်ဘက်မှ ဖြစ်သည်ဟု ယုံကြည်ထားကြသည့်သူများ ဖြစ်ကြသည်။ သောင်ဟီးဒ်၏ အွမ္မသ်ဟူသည် ရှရိက်၏အနံ့အသက်များနှင့် မည်သို့မျှ မပတ်သက်ရပေ။ ဤအတွက်ကြောင့် စစ်မှန်သော အီမာန်ရှင်သည် မိမိအတွက်ရော ၊ သူတစ်ပါးအတွက်ပါ နိမိတ်ဆိုး မကောက်ပေ။ ၎င်းနောက်ဤသည်ဂျာဟီလီယသ် (အမိုက်အမှောင်ခေတ်) ၏ ကိစ္စရပ်များမှဖြစ်သည်။ ဂျာဟီလီယသ် (အမိုက်အမှောင်ခေတ်) ၏ ကိစ္စရပ်များသည် အစ္စလာမ်သာသနာနှင့် မည်သို့မှ ပတ်သက်ဆက်နွယ်မှုမရှိပေ။ အဘယ့်ကြောင့်

ဆိုသော် အစ္စလာမ်သာသနာ၏ အယူဝါဒသည် အလ္လာဟ် အရှင်မြတ် ဘက်တော်မှသတ်မှတ်ထားသည့်အတိုင်း ဖြစ်မည်ဟု တထစ်ချ ယုံကြည်ခြင်းဖြစ်သည်။

## ငှားရမ်းပစ္စည်း ကိုယ်မပိုင်




اَلْعَارِيَةُ مُؤَدَّاةٌ ﴿اَلْحَاكِمُ﴾

ကိုယ်တော်မြတ်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... (မိမိ) ငှားရမ်းထားသည့် ပစ္စည်းဥစ္စာများကို (ပိုင်ရှင်အား) ပြန်လည်ပေးဆောင်ရမည်။

**ရှင်းလင်းချက်** ➲ လူတစ်ယောက်သည် တစ်ပါးသူထံမှ တစ်စုံတစ်ရာ ငှားရမ်းမည်ဆိုပါက အသုံးပြုပြီးသည်နှင့် ပိုင်ရှင်အား ပြန်ပေးရပေမည်။ ဆိုင်းငံ့ထားခြင်း မပြုရပေ။

✍ بنت زين العابدين

## ကတိသစ္စာ တည်ကြည်ပါ




اَلْعِدَةُ دَيْنٌ ﴿اَلطَّبْرَانِيّ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... ကတိပေးခြင်းသည် (ပေးဆပ်ရန်တာဝန်ရှိသည့်) အကြွေးမြီ ကဲ့သို့ဖြစ်သည်။

**ရှင်းလင်းချက်** ➲ လူတစ်ယောက်၏ အကြွေးပေးဆပ်ရန် အရေးကြီးသကဲ့သို့ မိမိ ကတိပေးထားသည့် ကိစ္စရပ်နှင့် စပ်လျဉ်း၍လည်း တည်ရန် အရေးကြီးပေသည်။ ကျမ်းတော်မြတ်ကုရ်အာန်တွင် အလ္လာဟ်အရှင်မြတ်သည် ကတိပေးပြီး ကတိတည်သော အီမာန်ရှင်အား ဤသို့ ဂုဏ်ပြုထားတော်မူသည်။

وَالْمُوْفُوْنَ بِعَهْدِهِمْ اِذَا عٰهَدُوْا ۚ

အဓိပ္ပါယ် ➲ ၎င်းနောက် ယင်းသူတို့သည် ကတိပြုသောအခါ၌ မိမိတို့၏ ပဋိညာဉ် ဝန်ခံချက်များကို အတည်ပြုကြ၏။

## အကြည့်ဆိုးတစ်ချက် ဘဝပျက်



اَلْعَيْنُ حَقٌّ ﴿اَلشَّيْخَانِ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ … (နဇရ်) မျက်စိ၏ စူးရှမှုသည် အမှန်ပင်ဖြစ်သည်။

**ရှင်းလင်းချက်** ➲ လူတစ်ယောက်၏ မကောင်းသည့်အရှုကြောင့် အကြည့်ခံရသူ၌ ဘေးဥပါတ် သင့်တတ်သည်။ သို့သော် ထိုသို့မကောင်းသောအကြည့်ဖြင့် ကြည့်ရုံဖြင့် ဘေးဥပါတ်ဖြစ်စေခြင်းသည် အလ္လာဟ်အရှင်မြတ် ၏ အမိန့်တော်

အရသာဖြစ်သည်။ အကယ်၍ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်မပါလျှင် မည်သို့မျှ ဆိုးကျိုး မသက်ရောက် နိုင်ပေ။ ထို့ကြောင့် လူသားသည် အလ္လာဟ်အရှင်မြတ်ထံတော် ပါး၍ ထိုအရာများမှလည်း ခိုလှုံရန် သင့်ပေသည်။

## မင်္ဂလာသတ္တဝါ မွေးမြူပါ



﴿ اَلْغَنَمُ بَرَكَةٌ ﴾ ﴿ أَبُوْ يَعْلَى ﴾

ကိုယ်တော်မြတ်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... သိုး ၊ ဆိတ် မွေးမြူခြင်းသည် တိုးပွားမှုရှိသည်။

**ရှင်းလင်းချက်** ➲ သိုး ၊ ဆိတ် မွေးခြင်း၌ တိုးပွားမှုရှိခြင်း ဆိုသည်မှာ သိုး ၊ ဆိတ် များသည် နို့ရှင်သည် ၊ အလျှင်အမြန်ဖွားလွယ်သည်။ ၎င်းတို့၏ အမွေးများမှလည်း အနွေးအထည်များ ပြုလုပ်နိုင်ရုံသာမက စားသုံးရန် လိုအပ်ပါက ၎င်းတို့၏ အသားများကိုလည်း စားသုံးနိုင်သည်။

## ဖုံးအုပ်ထားပါ

**၂၂** ﴿اَلْفَخِذُ عَوْرَةٌ﴾ ﴿التِّرْمِذِیُّ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... ပေါင်သည် ( အမျိုးသားများအတွက် ) လည်း ဖုံးအုပ်ထားရမည့် အစိတ်အပိုင်း ဖြစ်သည်။

**ရှင်းလင်းချက်** ➲ အေမာမ် ဗူခါရီ رَحمۃاللہ علیہ နှင့် အေမာမ် အဟ်မဒ် رَحمۃاللہ علیہ တို့၏ဆင့်ပြန်ချက်တစ်ရပ်တွင် လာရှိသည်မှာ ... ကိုယ်တော်မြတ် ﷺ သည် ဟဇရသ်မအ်မရ် ဗင်န် အဗ်ဒွလ္လာဟ် رضي الله عنه သခင်၏ အနားမှ ဖြတ်သန်းသွားစဉ် ၎င်း၏ပေါင်နှစ်ဖက်သည် ပေါ်နေသည်။ ထိုအခါ ကိုယ်တော်သည် ၎င်းအား မိန့်တော်မူသည်မှာ ... အို မအ်မရ် အသင်၏ပေါင်နှစ်ဖက်ကို ဖုံးအုပ်လိုက်ပါ။ အမှန်တကယ်ပင် ပေါင်နှစ်ဖက်သည် (အမျိုးသားတို့အတွက်) ဖုံးအုပ်ထားရမည့် အရာဖြစ်သည်။

✍ بنت محمد طاہر

## စစ်ပွဲမဟုတ်သော စစ်ပွဲ

٢٣ قَفْلَةٌ كَغَزْوَةٍ ﴿أَحْمَدُ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... စစ်ပွဲမှ ပြန်လာ ခြင်းသည် စစ်တိုက်သည့်ပမာဖြစ်သည်။

**ရှင်းလင်းချက်** ➲ မူဂျာဟိဒ် တစ်ဦးသည် ဂျိဟားဒ်မှ မိမိ၏ အိမ်သို့ ပြန်လာခြင်းသည် ဇိမ်ခံရန် ၊ အပန်းဖြေရန် မဟုတ်ဘဲ မိသားစုကို စောင့်ရှောက်ရန်နှင့် စစ်ပွဲသို့ နောက်တစ်ကြိမ် ၊ ပြန်သွားနိုင်ရန် အားအင်ဖြည့်ဆည်းခြင်း သာဖြစ်သည်။ ဤ အတွက်ကြောင့် စစ်တိုက်ရန်သွားခြင်းတွင် စဝါးဗ်ရသကဲ့သို့ စစ်ပွဲမှ ပြန်လာခြင်းတွင်လည်း အလားတူ စဝါးဗ်ရပေသည်။

## ကုလားအုပ်လည်းကြိုးချည် အရှင့်လည်းယုံကြည်

٢٤ قَيِّدْ وَتَوَكَّلْ ﴿اَلْبَيْهَقِيُّ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... ( အစီးအနင်းကို ) ချည်နှောင်ပါ ။ ပြီးနောက် ( အလ္လာဟ်အရှင်မြတ် အပေါ် ) ယုံပုံ အားထားပါ။

**ရှင်းလင်းချက်** ➲ ဟာဇရသ် အမရ် ဗင်န် အိုမိုင်ယဟ် ؓ သခင်ကြီးသည် တမန်တော်မြတ် ﷺ အား လျှောက်ထား

သည်မှာ အို ... ကိုယ်တော် ကျွန်တော်မျိုးသည် ကုလားအုတ်ကို လွှတ်ပြီး အလ္လာဟ်အရှင်မြတ်အပေါ် ယုံပုံအားထားရမည်လော ? ထိုအခါ ကိုယ်တော်မြတ် ﷺ မိန့်သည်မှာ အသင်သည် ကုလားအုပ်ကို ချည်နှောင်ပါ ၊ ပြီးနောက် အလ္လာဟ်အရှင်မြတ်အား ယုံပုံအားထားပါ။

❒ အထက်ပါ ဟဒီးစ်တော်များအရ မိမိတို့၏ ပိုင်ဆိုင်မှုများကို ထိန်းသိမ်းခြင်း ၊ လိုအပ်လာလျှင် အစောင့်အကြပ်ထားခြင်းသည် အလ္လာဟ်အရှင်မြတ်အပေါ် ယုံပုံအားကိုးခြင်းနှင့် မည်သို့မှ မဆန့်ကျင်ကြောင်းသိရပေသည်။

## ကြီးသူ ရှိသေ

٢٥ اَلْكُبْرَ اَلْكُبْرَ ﴿اَلشَّيْخَانِ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... ကြီးသူကို ရှေ့တန်းတင်ပါ။

**ရှင်းလင်းချက်** ➲ စကားပြောသည့်အခါဖြစ်စေ ၊ စားသောက်ရာတွင်ဖြစ်စေ ၊ အသက်ကြီးသူကို ဦးစားပေးရမည်။ အကယ်၍ အသက်အရွယ်ကြီးသူသည် အသက်ငယ်သူအား ခွင့်ပေးလျှင်မူ အကြောင်းမဟုတ်ပေ။

✍ بنت محمّد يونس

## အစေခံများ ဂုဏ်ပေးထား

٢٦ مَوَالِيْنَا مِنَّا ﴿اَلطَّبْرَانِى﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... ကျွန်ုပ်တို့၏ အစေခံများသည် ကျွန်ုပ်တို့ထဲမှဖြစ်သည်။

**ရှင်းလင်းချက်** ➲ ၎င်းသူများကို ဂုဏ်ပေးရမည်ဖြစ်သည်။ သွန်သင် ဆုံးမပေးရမည်။ အကောင်းလိုလား ပေးရမည်။ ကျွန်ုပ်တို့၏ ရင်သွေးများအတွက် သောကထားသကဲ့သို့ ၎င်းတို့အတွက်လည်း သောကထားပြီး သာသနာ့ အသိပညာများ ၊ ဘဝလိုအပ်ချက်များ ကို သင်ကြားပေးရမည် ဖြစ်သည်။

## အီမာန်ရှင်အတွက် မျှော်လင့်ချက်

٢٧ اَلْمُؤْمِنُ مُكَفِّرٌ ﴿اَلْحَاكِمُ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... အီမာန်ရှင်သည်( ၎င်းကြုံတွေ့ရသည့် ဒုက္ခကြီး/ငယ် ကိုအကြောင်းခံ၍ ) အပြစ်များပလပ်ပေးခြင်းခံရသည်။

**ရှင်းလင်းချက်** ➲ အီမာန်ရှင်သည် မိမိ၏ ခန္ဓာကိုယ်၌ဖြစ်စေ ၊ ဥစ္စာပစ္စည်း၌ ဖြစ်စေ ထိတွေ့ခံစားရသည့် ဒုက္ခများကို အကြောင်းခံ၍ အပြစ်ဂိုနာဟ်များ ပလပ်ပေးခြင်းခံရမည်။

## ကုန်စျေးနှုန်း မတက်စေရန်

٢٨ ﴿ اَلْمُحْتَكِرُ مَلْعُوْنٌ ﴾ ﴿ اَلْحَاكِمُ ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ … ( လူအများ အခက်အခဲဖြစ်နေချိန် အစားအစာ ၊ ကုန်ပစ္စည်းများအား ) မှီတင်းသိုလှောင်သူသည် အလ္လာဟ်အရှင်မြတ်၏ ရဟ်မသ်တော်မှ ဝေးကွာသူဖြစ်သည်။

**ရှင်းလင်းချက်** ➲ အထက်ဖော်ပြပါ ဟဒီးစ်အရ လူအများ လိုအပ်နေချိန်တွင် ပစ္စည်းဥစ္စာ ၊ အစားအစာများအား သိုလှောင် မှီတင်းထားခြင်းသည် **ဟရာမ်** ဖြစ်ပေသည်။ အဘယ်အတွက်ကြောင့်ဆိုသော် ထိုကဲ့သို့ ပြုမူခြင်းသည်အများလူထုအားဒုက္ခဖြစ်စေသည်။ကုန်စျေးနှုန်းကိုတက်စေသည်။

✍ بنت عبد الرحمن نوراسلام

## သစ္စာရှင် အတိုင်ပင်ခံ

٢٩ ﴿ اَلْمُسْتَشَارُ مُؤْتَمِنٌ ﴾ ﴿ اَلسُّنَنُ الْأَرْبَعَة ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ … အတိုင်ပင်ခံသည် သစ္စာရှင်ဖြစ်ရမည်။

**ရှင်းလင်းချက်** ➲ အတိုင်ပင်ခံပုဂ္ဂိုလ်သည် မိမိတိုင်ပင် ဆွေးနွေးခံရသော အရာနှင့် စပ်လျဉ်း၍ သစ္စာရှိရမည်။ ထိုကိစ္စကို အခြားသူများမှ ဖုံးကွယ်ပေးထားရမည်။ ၎င်းနောက် စဉ်းစားပြီး အကောင်းဆုံးအကြံဉာဏ်ပေးရမည်။ အချို့ပညာရှင်များ၏ မိန့်ဆိုချက်အရ အတိုင်ပင်ခံပုဂ္ဂိုလ်သည် သူတစ်ပါးအား ကောင်းမွန်သော အကြံဉာဏ်ပေးနိုင်ရန် အလို့ငှာ များစွာသောအရည်အချင်းများ လိုအပ်ပေသည်။ ၎င်းတို့မှာ သာသနာ့အသိပညာရှိခြင်း၊ အတွေးအခေါ်မှန်ကန်ရင့်ကျက်ခြင်း ၊ မျှတသောဗီဇကို ပိုင်ဆိုင်ခြင်းနှင့် အလျှင်စလိုမပြုခြင်းတို့ဖြစ်ပေသည်။ အဆိုပါ အရည်အချင်းများမရှိဘဲ အကြံပေးလျှင် မိမိပေးသော အကြံသည် မှားယွင်းနိုင်သည်။ ထို့ကြောင့် မိမိမစဉ်းစားနိုင်သော ကိစ္စရပ်ဖြစ်လျှင် အစကနဦးကပင် အကြံဉာဏ်မပေးသင့်ပေ။

## ဖြေတတ်ရင် ကျေနပ်စရာ




اَلْمُتَنَعِّلُ رَاكِبٌ ﴿اِبْنُ عَسَاكِر﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... ဖိနပ်စီးထားသူသည် အစီးအနင်းစီးသူဖြစ်သည်။

**ရှင်းလင်းချက်** ➲ ဖိနပ်စီးခွင့်ရခြင်းသည်လည်း အလ္လာဟ် အရှင်မြတ်၏ ကျေးဇူးတော်တစ်ရပ်ပင်ဖြစ်သည်။ အကြောင်းမှာ ဖိနပ်စီးခြင်းဖြင့်ခြေထောက်တွင်ဆူးခြောင့်များ မဆူးတော့ဘဲ အခက်အခဲမရှိသွားလာနိုင်သည်။

## မပေါ့ဆလိုက်ပါနဲ့


اَلنَّارُ جُبَارٌ ﴿أَبُوْدَاود﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ (မိမိပိုင်နက်တွင်ရှို့ထားသော) မီးသည် (အခြားသူများ၏ ပစ္စည်းဥစ္စာများကို လောင်ကျွမ်းသွားပါက ) လျှော်ကြေးပေးစရာမလိုပေ။

**ရှင်းလင်းချက်** ➲ မိမိပိုင်နက်တွင် လူတစ်ယောက်သည် မီးမွေးထားမည်။ သို့ဖြစ်ပေရာ ထိုမီး၏ မီးစများသည် လေတိုက်ခတ်မှုကြောင့် မိမိပိုင်းအပြင်သို့ လွင့်စင်သွားမည်။ မိမိသည် ထိုမီးစများကို ထိန်းသိမ်းရန်ကြိုးစားသော်လည်း အခြားသူ၏ ပစ္စည်းများကို လောင်ကျွမ်းသွားမည်။ ထိုသို့ဆိုလျှင် ထိုမီးမွေးသူအပေါ်တွင် လျှော်ကြေးပေးရန် မလိုအပ်ပေ။

✍ بنت عبد الرحمن

## မီးဘေးအန္တရာယ်

**၃၂** ﴿اَلنَّارُ عَدُوٌّ﴾ ﴿أَحْمَد﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... မီးသည် ရန်သူဖြစ်သည်။

**ရှင်းလင်းချက်** ➲ အကယ်၍ မီးကို မဆင်မခြင် အသုံးပြုပါက မီးသည် ရန်သူပမာဖြစ်သည်။ လူတို့အား အန္တရာယ်ဖြစ်စေနိုင်သည်။ ထို့ကြောင့် ဟဒီးစ်တော်တစ်ရပ် တွင်လာရှိသည်မှာ ... မီးသည်အသင်တို့၏ရန်သူဖြစ်သည်။ သို့ဖြစ်ပေရာ ဂရုတစိုက် အသုံးပြုကြကုန်။ မအိပ်ခင် မီးများကို ငြိမ်းသက်ကြလေကုန်။ အချို့ပညာရှင်များ၏ သုံးသပ်ချက်အရ ဤဟဒီးစ်တော်တွင် မိန့်ထားသောမီးဆိုသည်မှာ လောက၏မီးလည်းဖြစ်နိုင် သကဲ့သို့ အာခေရသ် ၏ မီးလည်း ဖြစ်နိုင်ပေသည်။ ထိုသို့ဆိုလျှင် အလိုသဘောမှာ အသင်တို့သည် နောင်တမလွန်တွင် အပြစ်ဒဏ်ခံရမည့် ဂိုနာဟ် ဒုစရိုက်များ ကျူးလွန်ခြင်းမှ ဝေးစွာ ရှောင်ကျဉ် ကြလေကုန် ဟူ၍ဖြစ်သည်။

## နဗီ့ အမွေ

**၃၃** ﴿اَلنَّبِيُّ لَا يُوْرَثُ﴾ ﴿أَبُوْ يَعْلٰى﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... နဗီတမန်တော်ဟူသည် အမွေမဆက်ခံစေပါ။

**ရှင်းလင်းချက်** ➲ နဗီချန်ရစ်ခဲ့သော လောကီ သခ်ါရပစ္စည်းများမှာ မိသားစုပိုင်အမွေဆိုင် မဖြစ်ပါ။ ထိုသို့မဟုတ်လျှင် နဗီတမန်တော်များသည် မိမိတို့၏ အမွေစား အမွေခံများအတွက် ဒွန္နယာကို မက်မောသည် ဟု အလိုသဘော သက်ရောက်နိုင်သည်။

## အကျိုးရှိလှ သောင်ဗဟ် နောင်တ

٣٤ اَلنَّدَمُ تَوْبَةٌ ﴿أَحْمَد﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... နောင်တတရား ရခြင်းသည် သောင်ဗဟ် အမှားဝန်ချ တောင်းပန်ခြင်းဖြစ်သည်။

**ရှင်းလင်းချက်** ➲ စစ်မှန်သော သောင်ဗဟ် အမှားဝန်ချတောင်းပန်ခြင်းဟူသည် နှလုံးသားထဲမှ မိမိသည် အားကုသိုလ် ပြုမိခြင်းအပေါ် ယူကြုံးမရ ဖြစ်ခြင်းဖြစ်သည်။ ထိုသို့ဖြင့် မိမိကျူးလွန်ခဲ့သည့်အပြစ်ကိုစွန့်လွှတ်မည်ဖြစ်ပြီး နောက်နောင်တွင်လည်း ထိုအပြစ်ကို မကျူးလွန်ရန် ယတိပြတ် ဆုံးဖြတ်ချက် ချမည်ဖြစ်သည်။

✍ بنت احمد علی

## ဝိသိရ်၏ အလှတရား

٣٥ اَلْوِتْرُ بِلَيْلٍ ﴿أَحْمَد﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... ဝိသိရ်ဟူသည် ညတွင် ဝတ်ပြုရသော နမားဇ် ဖြစ်သည်။

**ရှင်းလင်းချက်** ➲ ဝိသိရ် အချိန်သည် အေယှာနမားဇ်ပြီးမှ ဝတ်ပြုရသည်။ သို့သော် ည၏ နောက်ဆုံးယံတွင် ဝတ်ပြုခြင်းသည် သာပိုထွဋ်မြတ်သည်။ အကြောင်းမှာ ထိုအချိန်တွင် ဖရစ်ရှိသာ ကောင်းကင်တမန်များသည်ပင် ပါဝင် ဝတ်ပြုကြသည်။ သို့သော် အကြင်သူသည် ညတွင် နိုးကြားမည် ဟုစိတ်မချရလျှင် ဝိသိရ်နမားဇ်ကို ည၏ အစပိုင်းတွင်သာ ဆောက်တည်သင့်ပေသည်။ ကျွန်ုပ်တို့၏ မဇ်ဟဗ်တွင် ဝိသိရ်ဖတ်ခြင်းသည် ဝါဂျစ်ဗ် တာဝန်ဖြစ်သည်။

## သေခြင်းတရား မမျှော်လင့်ရ

٣٦ لَاتَمَنَّوُا الْمَوْتَ ﴿ابن مَاجَة﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... အသင်တို့ သေခြင်းတရားကို မျှော်လင့်တောင်းတမှု မပြုလုပ်လေနှင့် ။

**ရှင်းလင်းချက်** ➲ ဤဟဒီးစ်တော်အရ မိမိခံစားရသော ဝေဒနာများအပေါ် သေခြင်းတရားကို တောင်းတခြင်းသည် မနှစ်မြို့ဖွယ်ရာဖြစ်ကြောင်း သိရှိရပေသည်။ အဘယ့်ကြောင့် ဆိုသော် သေခြင်းတရားဟူသည် အလ္လာဟ်အရှင်မြတ်၏ သတ်မှတ်ချက်ဖြင့်သာ ဆိုက်ရောက်မည်ဖြစ်သည်။ အလ္လာဟ် အရှင်မြတ် မသတ်မှတ်မီအလျှင် သေခြင်းတရားကို မျှော်လင့် တောင်းတခြင်းသည် အလ္လာဟ်အရှင်မြတ်၏ ဆုံးဖြတ်ချက် အပေါ်ဝယ်ဆောဒကတက်ခြင်းမည်၏။ အလ္လာဟ်အရှင်မြတ် သည် လူတို့အား သက်တမ်းရှည်လျားစွာ ချီးမြှင့်တော်မူခြင်း သည် အချည်းအနှီးမဟုတ်ပေ။ သူမွန် သူမြတ် တို့အား သက်တမ်းရှည်လျားစွာထားခြင်းသည် ကောင်းမှုများ သာပို ပြုလုပ်ရန်အတွက် ဖြစ်ပြီး မကောင်းမှုဒုစရိုက်ကျူးလွန်သော သူများအား သက်တမ်းရှည်လျားစွာ ထားခြင်းမှာမူ ထိုမ ကောင်းမှုဒုစရိုက်များမှ သောင်ဗဟ် အမှားဝန်ချတောင်းပန် ရန် အတွက် ဖြစ်သည်။

## ဒေါသ ရှောင်ထားရ

**၃၇** لَاتَغْضَبْ ﴿اَلْبُخَارِىُ﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ... အသင် ဒေါသ မဖြစ်လေနှင့် ။

**ရှင်းလင်းချက်** ➲ ဒေါသဟူသောအရာသည် လူ့၏ သဘော သဘာဝတွင် အလ္လာဟ်အရှင်မြတ် ထည့်သွင်းဖန်ဆင်းပေး ထားသောအရာဖြစ်သည်။ သို့သော်ဒေါသဖြစ်သည့် ပုံစံအပေါ် မူတည်၍ လူတို့ ဒေါသဖြစ်ခြင်း သည် ကွဲပြားမှုရှိကြပေသည်။ အချို့သောဒေါသဖြစ်ခြင်းသည်ချီးကျူးထိုက်ပြီး ဒီးန်သာသနာ ကို အကျိုးဖြစ်ထွန်းစေသည်။ အချို့သော ဒေါသဖြစ်ခြင်းမှာမူ ရှရီအသ်တရားတော်ဘက်မှ ပြစ်တင်ရှုံ့ချထားလေသည်။ ချီးကျူးထိုက်သည့် ဒေါသဖြစ်ခြင်းဟူသည်မှာ အလ္လာဟ်အရှင် မြတ် တားမြစ်ထားသည့် ကိစ္စရပ် တစ်ရပ်ကို ကျူးလွန်ခြင်း အပေါ် ကျူးလွန်သူအား အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကို ရည်စူးပြီး ဒေါသဖြစ်ခြင်းဖြစ်သည်။ အကယ်၍ မိမိသည် ဒေါသ မဖြစ်လျှင် အပြစ်ကျူးလွန်သူသည် ပို၍ပင် အတင့် ရဲသွားမည်ဖြစ်သည်။ ရှရီအသ်တရားတော်မှ ပြစ်တင်ရှုံ့ချ ထားသည့်ဒေါသဖြစ်ခြင်းဟူသည်မှာ ဒေါသဖြစ်ရန် မည်သည့် အကြောင်းတရားမှမရှိဘဲ မိမိ၏စိတ်ရိုင်း နှင့် ရှိုင်သွားန် ၏ဘက်မှ ဖြစ်လာသည့် ဒေါသဖြစ်ခြင်း ဖြစ်သည်။ ဥပမာ တစ်ဦးတစ်ယောက်က မိမိအား တရားတော်နှင့် အညီ ဆုံးမပဲ့ပြင်ခြင်းအပေါ် ဒေါသဖြစ်ခြင်းမျိုး ကို ဆိုလိုပါသည်။

❒ ဒေါသဖြစ်ခြင်းပိုင်သော အခြေအနေများလည်း ရှိသည်။ ၎င်းမှာ လူတစ်ဦးသည် မိမိအား မခြေမငံ ဆက်ဆံ၍ဖြစ်စေ ၊ နိုင်ထက်စီးနင်းမှုပြု၍ဖြစ်စေ ၊ ဒေါသဖြစ်ခြင်းဖြစ်သည်။ ထိုအခြေနေတွင် ဒေါသဖြစ်ခြင်းမှာလည်း အတိုင်းထက်အလွန် မဖြစ်ရပေ။ သို့သော်လည်း တရားတော်ဘက်မှ မိမိ၏ ဒေါသကို ထိုကဲ့သို့အခြေနေတွင်လည်း မြိုသိပ်ရန် တိုက်တွန်းထားပေသည်။

وَ الۡکٰظِمِیۡنَ الۡغَیۡظَ وَ الۡعَافِیۡنَ عَنِ النَّاسِ ؕ وَ اللّٰہُ یُحِبُّ الۡمُحۡسِنِیۡنَ ﴿۱۳۴﴾

**အဓိပ္ပါယ်** ➲ (ထိုသူတော်စဉ်များသည်) အမျက်ဒေါသကို ချုပ်တည်းမျိုသိပ်သော သူများလည်း ဖြစ်ကြကုန်၏။ လူသားတို့အား ခွင့်လွှတ်သူများလည်း ဖြစ်ကြကုန်၏။ စင်စစ် အလ္လာဟ်အရှင်မြတ်သည် ယင်းသို့ ကောင်းမှုပြုလုပ်သောသူများအား နှစ်သက်တော်မူချေသတည်း။

✍ بنت محمد یوسف قاسم

## ဒုက္ခမပေးရ

٣٨ لَا ضَرَرَ وَلَا ضِرَارَ ﴿أَحْمَد﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ (သူတစ်ပါး အား) ဒုက္ခမပေးရ ၊ ၎င်းနောက် (လက်စားချေသောအားဖြင့်) ပြန်လည်၍ ဒုက္ခမပေးရ။

**ရှင်းလင်းချက်** ➲ အစ္စလာမ်သာသနာတွင် သူတစ်ပါးအား မည်သို့မျှ ဒုက္ခပေးခြင်း မပိုင်ပေ။ သို့သော် ရှရီအသ်တရား တော်ဘက်မှ အပြစ်ဒဏ်အဖြစ် သတ်မှတ်ထားသော အရေးယူမှုများမှာ အထက်ပါအမိန့်တွင် အကျုံးမဝင်ပေ။

## ဝဆီယသ် မည်သူ့အတွက်လဲ

٣٩ لَا وَصِيَّةَ لِوَارِثٍ ﴿الدَّارَقُطْنِي﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ ( အမွေပေး မည့်သူသည် ) အမွေဆက်ခံမည့်သူအား ဝဆီယသ် မှာတမ်း ခြင်း အလျှင်းမပြုရ။

**ရှင်းလင်းချက်** ➲ အမွေစား ၊ အမွေဆိုင် တို့အတွက် သတ် မှတ်ချက်များ ပြဋ္ဌာန်းပြီးဖြစ်သောကြောင့် ၎င်းတို့အတွက် ဝဆီယသ် မှာတမ်းခြင်း မပြုရတော့ပေ။ ဝဆီယသ်မှာတမ်း

ခြင်းမှာ အမွေဆိုင်များမဟုတ်သည့် အခြားသူများအတွက် ပြုပေးရသည်။

## စည်းလုံးခြင်း၏ အင်အား

٤٠ يَدُ اللهِ فَوْقَ الْجَمَاعَةِ ﴿التِّرمِذِى﴾

ကိုယ်တော်သခင် ﷺ အမိန့်ရှိတော်မူသည်မှာ … အလ္လာဟ် အရှင်မြတ်၏ ကူညီမှုသည် (ဂျမာအသ်) အဖွဲ့အစည်း ပေါ်၌ ရှိ၏။

**ရှင်းလင်းချက်** ➲ ရှရီအသ်အပေါ် အခြေခံသည့် စည်းလုံး ညီညွတ်သောအဖွဲ့အစည်းအပေါ် အရှင်မြတ်၏ အကူအညီမှာ မုချ ရှိနေပါသည်။ နွားကွဲလျှင် ကျားဆွဲမည် ဆိုသည့်အတိုင်း မွတ်စ်လင်မ်တို့ကွဲလျှင် ရှိုင်သွားန်ဆွဲမည် ဖြစ်ပြီး ၊ အရှင်မြတ် ၏ အကူအညီနှင့် လွဲကြရမည်ဖြစ်သည်။

✍ بنت مولانا محمد صابر